အကြောင်းအရာ။ **အရှေ့တောင် အထွေထွေစွမ်းအင် နှင့် လျှပ်စစ်ကုမ္ပဏီ လီမိတက်မှ FO လောင်စာသုံး ၁၀ မဂ္ဂါဝပ် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ရင်းနှီးမြှုပ်နှံသူ | - အရှေ့တောင် အထွေထွေစွမ်းအင် နှင့် လျှပ်စစ်ကုမ္ပဏီ လီမိတက် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | -FO လောင်စာသုံး ၁၀ မဂ္ဂါဝပ် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | မွန်ပြည်နယ်၊ ရေးမြို့နယ်၊ အဘော်ကျေးရွာ အုပ်စု၊ ကွင်းအမှတ်၊ ၁၁၃၀၊ ရနန္ဒာကွင်းရှိ မြေ ၃ ဧက |
| ၃။ | မြေပိုင်ရှင် | - ဦးဇော်မင်းအောင် |
| | မြေအကျယ်အဝန်း | -၃ ဧက |
| | မြေငှားရမ်းခ | - တစ်နှစ်လျှင် ကျပ် သိန်း ၃၅၀ |
| | မြေ အသုံးပြုခွင့်သက်တမ်း | - ၁၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | -၂နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | **ကျပ် ၂၂,၅၀၀.၀၀ သန်း(US$ ၁၀.၈၁ သန်း အပါအဝင်)** |
| | ထည့်ဝင်သည့်အမျိုးအစား | |

| | ကျပ်သန်း | US$ သန်း | ညီမျှသော ကျပ်သန်း | စုစုပေါင်း ကျပ်သန်း |
|---|---|---|---|---|
| ငွေသား | ၂၈၆.၄၂ | - | - | ၂၈၆.၄၂ |
| အဆောက်အဦ | ၂၉၇.၁၄ | - | - | ၂၉၇.၁၄ |
| စက်ပစ္စည်း | ၇,၃၁၈.၆၂ | ၁၀.၈၁ | ၁၄,၅၉၇.၈၂ | ၂၁,၉၁၆.၄၄ |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ပမာဏ** | **၇,၉၀၂.၁၈** | **၁၀.၈၁** | **၁၄၅၉၇.၈၂** | **၂၂,၅၀၀.၀၀** |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်တွင်းရောင်း |
| ၈။ | နှစ်စဉ်ထုတ်လုပ်မှုပုံမှန်နှစ် (ပထမနှစ်) | **နှစ်စဉ်ထုတ်လုပ်မှု ဈေးနှုန်း စုစုပေါင်း (ကီလိုဝပ်) (ကျပ်) ကျပ်(သန်း) နာရီသန်းပေါင်း)**<br>၅၃,၂၁၇,၀၀၀ ၂၆၀ ၁၃,၈၃၆.၄၂၀ |
| ၉။ | အခြားတင်ပြချက် | - အတည်ပြုလျှောက်ထားလွှာနှင့်အတူ အရှေ့တောင်အထွေထွေစွမ်းအင် နှင့် လျှပ်စစ် ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ် (မိတ္တူ)၊ MOA နှင့် AOA တင်ပြထားပါသည်။<br>- ပြည်တွင်းဝန်ထမ်း ၃၉ ဦး ခန့်ထားမည်ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း ၂ ဦး ခန့်ထားမည် ဖြစ်ပြီး ပျမ်းမျှလစာမှာ အမေရိကန်ဒေါ်လာ ၅,၀၀၀ ဖြစ်ပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် အရှေ့တောင် အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်မှ KBZ Bank (ကမာရွတ်ဘဏ်ခွဲ)တွင် ၃၀-၈-၂၀၁၇ရက်စွဲဖြင့်ကျပ် ၂,၀၀၀,၀၉၇,၄၅၀ ရှိကြောင်း တင်ပြထားပါသည်။<br>- အဆိုပါကုမ္ပဏီသို့ မွန်ပြည်နယ်အစိုးရ အဖွဲ့မှ ၂၀၁၇ ခုနှစ် ဧပြီလ ၅ ရက်နေ့ ရက်စွဲပါစာဖြင့် ပုဂ္ဂလိက အလတ်စား လျှပ်စစ်ဓာတ်အား ထုတ်လုပ် ဖြန့်ဖြူးခြင်းဆိုင်ရာ ခွင့်ပြုမိန့်ထုတ်ပေးထားသည့် အထောက်အထား ပူးတွဲ တင်ပြထားပါသည်။<br>- မွန်ပြည်နယ်အစိုးရ၊ လျှပ်စစ်၊ စွမ်းအင်နှင့် စက်မှုဝန်ကြီးဌာနနှင့် အရှေ့တောင်အထွေထွေစွမ်းအင်နှင့် လျှပ်စစ်ကုမ္ပဏီ လီမိတက် |

| | | |
|---|---|---|
| | | တို့အကြား မွန်ပြည်နယ်၊ ရေးမြို့နယ်နှင့် သံဖြူဇရပ်မြို့နယ်အတွင်း FO လောင်စာ အသုံးပြု လျှပ်စစ် ဓာတ်အားပေး စက်ရုံ တည်ဆောက်၍ လျှပ်စစ် ဓာတ်အား ဖြန့်ဝေ ရောင်းချခြင်း စီမံကိန်းအား BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်နေ့တွင် ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ်အား တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှု အသင့်အတင့် ရှိသောဒေသ ဇုန် (၂) တွင် ပါဝင်ပါသည်။<br>- အမေရိကန်ဒေါ်လာ ၁၀.၈၁သန်း တန်ဖိုးရှိ စက်နှင့် စက်ပစ္စည်းကိရိယာများအား ပြည်ပမှ တင်သွင်းမည် ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက- ၅(လ)/အ-၀၀၂/၂၀၁၇(၅၂၃)

ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အရှေ့တောင် အထွေထွေစွမ်းအင် နှင့် လျှပ်စစ်ကုမ္ပဏီ လီမိတက်မှ လီမိတက်မှ FO လောင်စာသုံး ၁၀ မဂ္ဂါဝပ် လျှပ်စစ်ဓာတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုမိန့် တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အရှေ့တောင် အထွေထွေစွမ်းအင် နှင့် လျှပ်စစ်ကုမ္ပဏီ လီမိတက်မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ အဘော်ကျေးရွာ အုပ်စု၊ ကွင်းအမှတ်၊ ၁၁၃၀ ရနန္ဒာကွင်းရှိ မြေ ၃ ဧကတွင် FO လောင်စာသုံး ၁၀ မဂ္ဂါဝပ် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုချက် တင်ပြလာပါသည်။

၂။ အတည်ပြုချက်နှင့်အတူ မွန်ပြည်နယ်အစိုးရ လျှပ်စစ်၊ စွမ်းအင်နှင့်စက်မှုဝန်ကြီးဌာနနှင့် အရှေ့ တောင်အထွေထွေ စွမ်းအင် နှင့် လျှပ်စစ်ကုမ္ပဏီ လီမိတက်တို့အကြား FO လောင်စာသုံး ၁၀ မဂ္ဂါဝပ် လျှပ်စစ်ဓာတ်အားပေးစက်ရုံ တည်ဆောက်၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း စီမံကိန်းကို BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်နေ့တွင် ချုပ်ဆိုထားသည့် ပဋိညာဉ် စာချုပ်၊ မြေပိုင်ရှင် ဦးဇော်မင်းအောင် နှင့် မြေငှားရမ်းသူ ဦးမောင်မောင်မြင့် (အရှေ့တောင် အထွေထွေစွမ်းအင် နှင့် လျှပ်စစ်ကုမ္ပဏီလီမိတက်) တို့အကြား ၂၀၁၆ ခုနှစ် ဒီဇင်ဘာ လ ၁ ရက်နေ့ တွင် ချုပ်ဆိုထားသည့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်၊ လုပ်ငန်းဆောင်ရွက်မည့် မြေအတွက် စက်မှုစီးပွားဂရန် လျှောက်ထားဆဲ အထောက်အထားများ၊ Layout Diagram of HFO Power Plant၊ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (မူကြမ်း) တို့ကို ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှား သက်တမ်းမှာ ၁၀ နှစ် ဖြစ်ပြီး မြေဧရိယာ ၃ ဧက (၁၂,၁၄၁ စတုရန်းမီတာ)တွင် လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါသည်။ နှစ်စဉ်မြေ ငှားရမ်းခမှာ ကျပ်သိန်း ၃၅၀ ဖြစ်ပါသည်။

၄။ တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

**ကန့်သတ်**

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ စုစုပေါင်း ကျပ် ၂၂,၅၀၀.၀၀ သန်း (US$ ၁၀.၈၁ သန်းအပါအဝင်)ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | ကျပ်သန်း | US$ သန်း | ညီမျှသော ကျပ်သန်း | စုစုပေါင်း ကျပ်သန်း |
|---|---|---|---|---|
| ငွေသား | ၂၈၆.၄၂ | - | - | ၂၈၆.၄၂ |
| အဆောက်အဦ | ၂၉၇.၁၄ | - | | ၂၉၇.၁၄ |
| စက်ပစ္စည်း | ၇,၃၁၈.၆၂ | ၁၀.၈၁ | ၁၄,၅၉၇.၈၂ | ၂၁,၉၁၆.၄၄ |
| **စုစုပေါင်း** | **၇,၉၀၂.၁၈** | **၁၀.၈၁** | **၁၄၅၉၇.၈၂** | **၂၂,၅၀၀.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှဝန်ထမ်း ၃၉ ဦးနှင့် ပြည်ပဝန်ထမ်း ၂ ဦးခန့် ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာကျပ် ၆၀၀,၀၀၀ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ ပျမ်းမျှလစာမှာ အမေရိကန်ဒေါ်လာ ၅,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော လျှပ်စစ်ဓာတ်အားကို ရေးမြို့နှင့် ပတ်ဝန်းကျင်ကျေးရွာများသို့ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ တစ်နှစ်လျှင် ကီလိုဝပ်နာရီသန်းပေါင်း ၅၃.၂၂ သန်းဖြစ်ပြီး ရောင်းချမည့်ဈေးနှုန်းမှာ တစ်ကီလိုဝပ်နာရီလျှင် ၂၆၀ ကျပ် ဖြစ်ပါသည်။

၈။ ငွေကြေးအထောက်အထားအဖြစ် အရှေ့တောင် အထွေထွေစွမ်းအင်နှင့် လျှပ်စစ်ကုမ္ပဏီလီမိတက်မှ KBZ Bank (ကမာရွတ် ဘဏ်ခွဲ) တွင် ၃၀- ၈- ၂၀၁၇ ရက်စွဲဖြင့် ကျပ် ၂,၀၀၀,၀၉၇,၄၅၀.၀၀ ရှိကြောင်း အထောက်အထားအား တင်ပြ ထားပါသည်။

**စိစစ်တင်ပြချက်**

၉။ (က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။ အတည်ပြုလျှောက်ထားလွှာ၏ အဓိက အချက်အလက်များအား နောက်ဆက်တွဲဖြင့် တင်ပြအပ်ပါသည်။

(ဂ) အတည်ပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှု အသင့်အတင့် ရှိသောဒေသ ဇုန် (၂)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အရှေ့တောင်အထွေထွေစွမ်းအင် နှင့် လျှပ်စစ် ကုမ္ပဏီ လီမိတက်မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ အဘော် ကျေးရွာအုပ်စု၊ ကွင်းအမှတ်၊ ၁၁၃၀ ရနန္ဒာ ကွင်းရှိ မြေ ၃ ဧကတွင် FO လောင်စာသုံး ၁၀ မဂ္ဂါဝပ် လျှပ်စစ်ဓာတ်အား ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြ လာခြင်း ကိစ္စ နှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ - မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



ဖော်ကြောင်းတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ လျှပ်စစ်-၂/(MIC)( ၁၀၉၀၅ )/ ၂၀၁၇

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ ၁၀ ရက်

4201
4.11.17

**သို့**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

- 1065
4.011.7

**အကြောင်းအရာ။** **မွန်ပြည်နယ်၊ ရေးမြို့နယ်တွင် HFO လောင်စာသုံး ၁၀ မဂ္ဂါဝပ် ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရောင်းချခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၁၀-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(လ)/အ-၀၀၂/ ၂၀၁၇(၄၇၀)

၁။ အရှေ့တောင်အထွေထွေစွမ်းအင်နှင့် လျှပ်စစ်ကုမ္ပဏီလီမိတက်မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ အဘော်ကျေးရွာအုပ်စု၊ ကွင်းအမှတ်၊ ၁၁၃၀ ရနန္ဒာကွင်းရှိ မြေ ၃ ဧကတွင် FO လောင်စာသုံး ၁၀ မဂ္ဂါဝပ် လျှပ်စစ်ဓာတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ခြင်းနှင့်စပ်လျဉ်း၍ အဆိုပါလုပ်ငန်းအား ကန့်ကွက်ရန် ရှိ-မရှိ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနမှ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) လျှပ်စစ်ဥပဒေအခန်း(၅)၊ အပိုဒ် ၁၃ တွင် **' ပြည်ထောင်စုက စီမံခန့်ခွဲခွင့်ရှိသည့် အကြီးစားလျှပ်စစ်ဓာတ်အားထုတ်လုပ်ဖြန့်ဖြူးရေးမှအပ မဟာဓာတ်အားလိုင်းနှင့်ဆက်သွယ်ခြင်းမရှိသော တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်က စီမံခန့်ခွဲခွင့်ရှိသည့် အလတ်စားနှင့် အသေးစားလျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းဖြစ်ပါက ခွင့်ပြုမိန့်ထုတ်ပေးနိုင်သူ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့သည် ပြည်တွင်းပြည်ပမှ ရင်းနှီးမြှုပ်နှံလုပ်ကိုင်ဆောင်ရွက်လိုသည့် မည်သည့်ပုဂ္ဂိုလ်၊ အဖွဲ့အစည်းကိုမဆို တည်ဆဲဥပဒေများနှင့်အညီ ခွင့်ပြုမိန့်ထုတ်ပေးနိုင်သည်'** ဟု ဖော်ပြထားပါသဖြင့် ဓာတ်အားစနစ်နှင့် ချိတ်ဆက်ခြင်း မရှိသော အခြေအနေ၌ အပိုဒ်(၁)ပါအတိုင်း ၁၀ မဂ္ဂါဝပ် ထုတ်လုပ်ရန် လုပ်ကိုင်ခြင်းကို ပြည်နယ်အစိုးရ၏ ခွင့်ပြုချက်အား ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း၊

(ခ) သို့သော် နောင်တွင် အဆိုပါဒေသသို့ နိုင်ငံတော်ဓာတ်အားစနစ်၏ ဓာတ်အားလိုင်းများ ရောက်ရှိချိန်၌ မွန်ပြည်နယ်အစိုးရ၏ ခွင့်ပြုမိန့်သက်တမ်း အလိုလို ကုန်ဆုံးသည်ဟု ထည့်သွင်းချုပ်ဆိုသင့်ကြောင်း၊

(ဂ) ထိုဒေသသို့ ဓာတ်အားစနစ်မှ လျှပ်စစ်ဓာတ်အားရောက်ရှိလာချိန်၌ ဒေသနေပြည်သူများက ဓာတ်အားစနစ်မှရောင်းချသော ဓာတ်အားခဈေးနှုန်းအတိုင်းသာ ဝယ်ယူအသုံးပြုခွင့်ကို တောင်းဆိုလာနိုင်သည့်အချက်အား ကြိုတင်စဉ်းစားထားရန် လိုအပ်ပါကြောင်း၊

(ဃ) မွန်ပြည်နယ်အစိုးရအဖွဲ့က ကုမ္ပဏီအား လောလောဆယ်ကာလတွင် အဆိုပါဒေသ၌ ဓာတ်အားထုတ်လုပ် ဖြန့်ဖြူးရောင်းချခွင့်ပြုခြင်းသည် Grid (ဓာတ်အားစနစ်) မရောက်ရှိမီ ဆောင်ရွက်ခွင့်ပြုခြင်းဖြစ်ရာ ဥပဒေနှင့်အညီ ကိုက်ညီပြီး၊ ၎င်းဒေသသို့ Grid ရောက်ရှိချိန်တွင် ထိုခွင့်ပြုမှုသည် ကိုက်ညီမှုရှိမည်မဟုတ်၍ ကုမ္ပဏီအနေဖြင့် ၎င်း၏လုပ်ပိုင်ခွင့် ဆက်လက်တည်ရှိနေမည်ဟု ယူဆတောင်းဆိုလာနိုင်သည့်ကိစ္စအား ယခုအချိန်၌ ကြိုတင် ရှင်းလင်းထားရန် လိုအပ်ပါကြောင်း။

(င) ၎င်းအပြင် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၏ နောက်ဆက်တွဲ(က)၊ ဆန်းစစ်ခြင်းဆောင်ရွက်ရန်လိုအပ်သည့် စီမံကိန်းလုပ်ငန်း အမျိုးအစားများတွင် “ **ပေါင်းစပ်စွမ်းအင်(ဓာတ်ငွေ့နှင့်အပူစွမ်းအင်)သုံး လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ထုတ်လုပ်မှုမဂ္ဂါဝပ် ၅ မဂ္ဂါဝပ်နှင့်အထက် ၅၀ မဂ္ဂါဝပ်အောက်ဆိုပါက ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ပြုလုပ်ရန်လိုအပ်သည်**”ဟု ပြဋ္ဌာန်းချက်အရ စီမံကိန်းဆိုင်ရာ(IEE)လုပ်ငန်း အတွက် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း။

ပြည်ထောင်စုဝန်ကြီး( ကိုယ်စား)
(စိုးမြင့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

မွန်ပြည်နယ်အစိုးရအဖွဲ့
လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန
လျှပ်စစ်ဓာတ်အားထုတ်လုပ်ရေးလုပ်ငန်း
ရုံးလက်ခံ/ မျှောစာတွဲ

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏
အတည်ပြုလွှာတင်ပြချက်

မွန်ပြည်နယ်၊ ရေးမြို့နယ်တွင်
FO လောင်စာသုံး လျှပ်စစ်ဓါတ်အားပေးစက်ရုံ
တည်ဆောက်၍
လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းစီမံကိန်းအား

အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

မှ

လုပ်ငန်းဆောင်ရွက်ရန် အတည်ပြုလွှာတင်ပြချက်



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ် ၀၀၁/ လျှပ်စစ်စီမံကိန်း /၂၀၁၇

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာလ (၁၅)ရက်

အကြောင်းအရာ။ မွန်ပြည်နယ်၊ ရေးမြို့နယ်တွင် **FO** လောင်စာသုံးဓါတ်အားပေးစက်ရုံ တည်ဆောက်၍လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်းစီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာတင်ပြခြင်း။

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇. ၇. ၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၅(လ)/န-ထွေ/၂၀၁၇(၃၃၉)။

၁။ ကျွန်တော်များ အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်သည် မွန်ပြည်နယ်၊ ရေးမြို့နယ်တွင် **FO**လောင်စာသုံးဓါတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်းစီမံကိန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြအတည်ပြုခွင့်ပြုမိန့်တောင်းခံသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အဆိုပြုလုပ်ငန်းစီမံကိန်းကို အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(က) ပထမအဆင့်အနေဖြင့် အကြိုအင်ဂျင်နီယာစူးစမ်းလေ့လာမှုလုပ်ငန်းများကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိသည့် နေ့ရက်မှစ၍(၃)လအတွင်း အပြီးဆောင်ရွက်သွားပါမည်။

(ခ) ဒုတိယအဆင့်အနေဖြင့် **FO**လောင်စာသုံးဓါတ်အားပေးစက်ရုံတည်ဆောက်ခြင်း၊ထုတ်လုပ်ပြီးလျှပ်စစ်ဓါတ်အားများဖြန့်ဖြူးရောင်းချနိုင်ရေးအတွက် ဓါတ်အားဖြန့်ဖြူးရေးလိုင်းများ (**Transmission Lines**) နှင့် **Transformer** များတည်ဆောက်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစ၍ ကျေးရွာများသို့မီးပေးနိုင်သည့်အဆင့်ထိ စီမံကိန်းလုပ်ငန်းတစ်ခုလုံးကို(၆)လအတွင်းအပြီးဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အဆိုပြုစီမံကိန်း လုပ်ငန်းတစ်ခုလုံးအတွက် နိုင်ငံခြားငွေ **US$ (10.813)** သန်းအပါအဝင် စုစုပေါင်းကျပ်သန်း(၂၂၅၀၀) ရင်းနှီးသွားမည် ဖြစ်ပါသည်။

၄။ ကျွန်တော်များကုမ္ပဏီမှ ဤစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်နိုင်ခြင်းဖြင့် နိုင်ငံတော်မှ



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236



လျှပ်စစ်မီးမပေးနိုင်သေးသည့် ကျေးလက်နေပြည်သူများ အဆင့်မြင့်မြင့်နေထိုင်လာနိုင်မည်ဖြစ်သည့်အပြင် စက်မှုဇုံများလည်းပေါ်ပေါက်လာမည်ဖြစ်သဖြင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုဖြစ်ပေါ်လာစေမည်သာမက ဒေသခံလူငယ်များ အတွက်နည်းပညာနှင့် ကျွမ်းကျင်မှုဆိုင်ရာအခွင့်အလမ်း ထွက်ပေါ်လာမည်ဖြစ်ခြင်းကြောင့် ဒေသခံပြည်သူများသည် စီးပွားရေးဖွံ့ဖြိုးတိုးတက်၍ ဆင်းရဲနွမ်းပါးမှုကို လျှော့ချနိုင်မည်ဖြစ်ပါသည်။

၅။ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအကောင်အထည်ဖော်ဆောင်ရွက်မည့် **FO**လောင်စာသုံး လျှပ်စစ်ဓါတ်အားပေးစက်ရုံတည်ဆောက်၍လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်း စီမံကိန်းကို အောက်ပါအတိုင်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(က) **FO**လောင်စာသုံး လျှပ်စစ်ဓါတ်အားပေးစက်ရုံတည်ဆောက်ခြင်း

(ခ) ဓါတ်အားဖြန့်ဖြူးရေးလိုင်းများတည်ဆောက်ခြင်း

(ဂ) ဓါတ်အားလိုင်းမှကျေးရွာများသို့ လျှပ်စစ်ဓါတ်အားပေးနိုင်မည့်ဓါတ်အားလိုင်းများနှင့် ထရန်စဖော်မာများတည်ဆောက်ခြင်း

(ဃ) လျှပ်စစ်ဓါတ်အားခများအား ခေတ်မီ မီတာကောက်ခံသည့်စနစ်ဖြင့် လျှပ်စစ်ဓါတ်အားခများ ကောက်ခံခြင်း

၆။ သို့ပါ၍မွန်ပြည်နယ်၊ ရေးမြို့နယ်တွင် **FO**လောင်စာသုံးဓါတ်အား ပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်းစီမံကိန်းကို လုပ်ကိုင်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ ပုံစံ(၄-က)ဖြင့် တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

U Maung Maung Myint

Managing Director



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်


အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း - ၀၅ - ၁ - ၆၅၈၁၃၀

ဖက်(စ်) - ၀၅ - ၁ - ၆၅၈၁၄၂


စာအမှတ်၊ မရက-၅(လ)/ န-ထွေ/၂၀၁၇(၃၃၉)

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၁၇ ရက်

သို့

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့် ထုတ်ပေးနိုင်ပါရန် တင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက်။ မွန်ပြည်နယ်အစိုးရအဖွဲ့၏ ၂၉-၅-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၃၀၀/၃-၁/အဖရ (မွန်)(၀၂၂၈)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ အရှေ့တောင်အထွေထွေစွမ်းအင်နှင့် လျှပ်စစ်ကုမ္ပဏီ လီမိတက် (SEGEP) မှ F.O လောင်စာသုံး (၁၀)မဂ္ဂါဝပ် လျှပ်စစ်ဓါတ်အားပေးစက်ရုံ(၁)ရုံစီဖြင့် စက်ရုံ (၃) ရုံကို တည်ဆောက်ပြီး စုစုပေါင်း (၃၀)မဂ္ဂါဝပ် လျှပ်စစ်ဓါတ်အား ဖြန့်ဖြူးပေးနိုင်ရေး အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်အတွက် မွန်ပြည်နယ်အစိုးရအဖွဲ့မှ ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အရှေ့တောင် အထွေထွေ စွမ်းအင်နှင့် လျှပ်စစ် ကုမ္ပဏီလီမိတက် (SEGEP) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၇ နှင့်အညီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြု လျှောက်ထားလွှာ တင်ပြရမည်ဖြစ်ပြီး အတည်ပြုမိန့်ရရှိပြီးမှသာ ဓာတ်အားခွဲရုံနှင့် ပတ်သက်သော စက်ပစ္စည်းများကို အခွန်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုရန် လျှောက်ထားရမည်ဖြစ်ပါသဖြင့် ကုမ္ပဏီအနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၄ ၊ ၇၅၊ ၇၇ အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားခွင့်ပြုရန် တင်ပြလျှောက်ထားရမည် ဖြစ် ပါသည်။

၃။ သို့ဖြစ်ပါ၍ လုပ်ငန်းနှင့် ပတ်သက်သည့် အတည်ပြုလျှောက်ထားလွှာအား သက်ဆိုင်ရာ အခွန်ကင်း လွတ်ခွင့်၊ သက်သာခွင့် လျှောက်ထားလွှာ၊ မြေအသုံးပြုခွင့် လျှောက်ထားလွှာတို့နှင့်တကွ လုပ်ငန်းဆိုင်ရာ အထောက်အထားများ ပူးတွဲ၍ လျှောက်ထားတင်ပြရန်ဖြစ်ပါကြောင်း အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

မွန်ပြည်နယ်ဝန်ကြီးချုပ်ရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

အရှေ့တောင် အထွေထွေ စွမ်းအင်နှင့် လျှပ်စစ် ကုမ္ပဏီလီမိတက်(SEGEP)

ရုံးလက်ခံ/မျှောစာတွဲ



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ၊ ၂၀၁၇ခုနှစ်၊ စက်တင်ဘာလ (၁၅)ရက်

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်များ အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက် သည် မွန်ပြည်နယ်၊ ရေး၊ မြို့နယ်တွင် FOလောင်စာသုံးဓါတ်အားပေးစက်ရုံတည်ဆောက်၍လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဝေ ရောင်းချခြင်းလုပ်ငန်းစီမံကိန်းကို မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့တင်ပြခွင့်ပြုမိန့်တောင်းခံသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှမည် သူမှ ပိုင်ဆိုင်မှုမရှိပါကြောင်းနှင့် အောက်ပါအချက်အလက်များကို သိရှိလိုက်နာပါမည် ဖြစ်ပါကြောင်းဝန်ခံ ကတိပြုတင်ပြအပ်ပါသည်။

(က) မြေငှားရမ်းခြင်း၊ မြေယာပိုင်ဆိုင်မှုနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ ချမှတ်ထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအတိုင်း လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(ခ) ဤလုပ်ငန်းစီမံကိန်းအတွက် ချေးငွေများရယူခဲ့ပါကလည်း ၎င်းချေးငွေများနှင့် ပတ်သက်၍ ကုမ္ပဏီနှင့် ချေးငှားသူတို့သာသက်ဆိုင်ပြီး နိုင်ငံတော်နှင့်ပတ်သက်ခြင်းမရှိ ပါကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ကျွန်တော်များကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း သဘာဝပတ်ဝန်း ကျင်အခြေအနေ ထိခိုက်ယုတ်လျော့မှုမရှိအောင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်သည့် အကြံပေးကျွမ်းကျင်ပညာရှင်များ၏ အကြံညဏ်ကိုရယူ၍ စနစ်တကျ

ထိန်းသိမ်းကြီးကြပ် ဆောင်ရွက်သွားမည်ဖြစ်သည့်အပြင် မီးဘေးအန္တရာယ်များမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(ဃ) ထို့ပြင်ယခုအဆိုပြုလွှာတွင်ဖော်ပြသည့်FOလောင်စာသုံးဓါတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်းစီမံကိန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုချက်ရရှိမှသာ စတင်ဆောင်ရွက်မည့် လုပ်ငန်းစီမံကိန်းအသစ် ဖြစ်ပါကြောင်းနှင့် နိုင်ငံတော်နှင့် မွန်ပြည်နယ်အစိုးရအဖွဲ့တို့မှ ချမှတ်ထားသည့် ဥပဒေ၊ နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U Maung Maung Myint
Managing Director
South East General Energy & Power Co., Ltd.



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာလ ( ၁၅ )ရက်

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် မွန်ပြည်နယ်၊ ရေးမြို့နယ်တွင် FOလောင်စာသုံးဓါတ်အားပေးစက်ရုံတည် ဆောက်၍လျှပ်စစ်ဓါတ်အားထုတ်လုပ် ဖြန့်ဝေရောင်းချခြင်းလုပ်ငန်းစီမံကိန်းကို ဆောင်ရွက်ခွင့်ပြုပါရန်နှင့် အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခွင့်ပြုပေးပါရန်လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက် သည် မွန်ပြည်နယ်၊ ရေးမြို့နယ်တွင် FOလောင်စာသုံးဓါတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ် ဖြန့်ဝေရောင်းချခြင်း လုပ်ငန်းစီမံကိန်းကို မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့တင်ပြခွင့်ပြုမိန့်တောင်းခံသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှုငွေ ကျပ်သန်းပေါင်း (၂၂၅၀၀)ကိုရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပြီး မွန်ပြည်နယ်အစိုးရအဖွဲ့နှင့် ပူးပေါင်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ဤသို့ဆောင်ရွက်၍ ရရှိလာသည့် အကျိုးအမြတ်များကို ဒေသအတွင်းရှိ ကျေးလက်နှင့်ဒေသခံပြည်သူများ ဆင်းရဲနွမ်းပါးမှုလျှော့နည်းစေမည့် လုပ်ငန်းများတွင် ထည့်ဝင်လုပ်ကိုင်သွားရန် ရည်ရွယ်ထားပါသည်။





အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236




၃။ ကျွန်တော်များကုမ္ပဏီအနေဖြင့် ဤစီမံကိန်းတည်ဆောက်ရေး လုပ်ငန်းအတွက်လိုအပ်သော စက်၊ ယာဉ် ယန္တယားနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပမှတင်သွင်းမည်ဖြစ်ပါသဖြင့် တင်သွင်းမည့်ပစ္စည်းများအပေါ် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုပေးအပ်ပါရန် နှင့် ဝင်ငွေခွန်ကိုလည်း စီးပွားဖြစ်စတင်သည့်နေ့မှစ၍ (၅)နှစ်ထိ ကာလအတွက် ကင်းလွတ်ခွင့်ပြုပါရန် တင်ပြလျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

U Maung Maung Myint
Managing Director
[illegible] Co., Ltd.



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236

**အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်**
**မွန်ပြည်နယ်၊ ရေးမြို့နယ်တွင်**
**FO လောင်စာသုံးလျှပ်စစ်ဓါတ်အားပေးစက်ရုံတည်ဆောက်၍**
**လျှပ်စစ်ဓါတ်အား ထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်း**
**စီမံကိန်းအတွက်ရှင်းလင်းတင်ပြချက်**

နိဒါန်း

၁။ ကျွန်တော်များ " အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက် "သည် မြန်မာနိုင်ငံသားများသာပိုင်ဆိုင်သောကုမ္ပဏီတစ်ခုဖြစ်ပြီး ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ်မှာ ၁၈၂၂/၂၀၁၆-၂၀၁၇(ရက) (၂၆. ၇. ၂၀၁၆) ဖြစ်ပါသည်။ ကျွန်တော်များကုမ္ပဏီသည် မွန်ပြည်နယ်ဒေသ၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းများတွင် ပါဝင်ဆောင်ရွက်ရန် ရည်ရွယ်၍ဖွဲ့စည်းခဲ့သောကုမ္ပဏီတစ်ခုဖြစ်ပါသည်။ ယခုအခါ နိုင်ငံတော်မှ လျှပ်စစ်မီးပေးနိုင်ခြင်းမရှိသေးသည့် မွန်ပြည်နယ်၊ မြို့နယ်များအတွင်းရှိ ကျေးလက်နေပြည်သူများ သင့်တင့်သောလျှပ်စစ်ဓါတ်အားခနှုန်းထားဖြင့် ရရှိသုံးစွဲနိုင်ခြင်းဖြင့် လူနေမှုအဆင့်အတန်းမြင့်မားလာစေမည်ဖြစ်ပါသည်။

ရည်ရွယ်ချက်

၂။ နိုင်ငံတော်မှ လျှပ်စစ်မီးမပေးနိုင်သေးသော ကျေးလက်ဒေသများသို့ လျှပ်စစ်မီးပေးနိုင်ခြင်းဖြင့် ကျေးလက်နေတောင်သူလယ်သမားများ အဆင့်မြင့်မြင့်နေထိုင်နိုင်ပြီး လူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်စေရေးနှင့် မြို့ရွာများခေတ်မီဖွံ့ဖြိုးတိုးတက်လာစေရန်၊

၃။ သင့်တင့်သော လျှပ်စစ်ဓါတ်အားခနှုန်းဖြင့် ကျေးလက်နေပြည်သူများ ခံစားရရှိမည်ဖြစ်သဖြင့် လျှပ်စစ်ဓါတ်အားများ ပိုမိုသုံးစွဲလာနိုင်စေရန်၊

၄။ လျှပ်စစ်မီးရရှိခြင်းဖြင့် စက်မှုဇုန်များ ထူထောင်နိုင်ပါက နိုင်ငံတကာရင်းနှီးမြှုပ်နှံသူများမှ လာရောက်ရင်းနှီးမြှုပ်နှံလာစေရန်၊

၅။ ဒေသအတွင်းစက်မှုဇုန်များအဖြစ် ဆောင်ရွက်နိုင်ခြင်းဖြင့် ဒေသခံပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိခံစားလာစေရန်၊



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236

စီမံကိန်းအကောင်အထည်ဖော်ဆောင်ရွက်မည့်အစီအစဉ်

၆။ ပထမအဆင့်အနေဖြင့် ရေးမြို့နယ်တွင် FOလောင်စာသုံးဓါတ်အားပေးစက်ရုံတည်ဆောက်၍လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်းကိုဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ၎င်းစီမံကိန်းတစ်ခုလုံး၏ **Infrastructure** ဖြစ်သည့်မြေသားများ စနစ်တကျပြုပြင်ဖော်ထုတ်ခြင်း၊ လမ်း၊ တံတား၊ ရေနုတ်မြောင်းများနှင့် လျှပ်စစ်ဓါတ်အားလိုင်းများသွယ်တန်းခြင်း၊ ရေရရှိရေးနှင့် ဆက်သွယ်ရေးစနစ်များ ဆောင်ရွက်ခြင်းစသည့် လုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရပြီးသည့်နေ့မှစ၍ (၆)လအတွင်း ပြီးစီးအောင်အကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်။ ၎င်းနောက် သံဖြူဇရပ်မြို့နယ်နှင့် ကျိုက်မရောမြို့နယ်များအတွင်းရှိ လျှပ်စစ်မီးမရရှိသေးသည့် ကျေးရွာများအထိ လျှပ်စစ်မီးများဖြန့်ဖြူးပေးနိုင်သွားရန် ရည်ရွယ်ထားပါသည်။

၇။ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြုတင်ပြသည့် လုပ်ငန်းစီမံကိန်းကို မွန်ပြည်နယ် ရေးမြို့နယ်(အဘော်ကျေးရွာ)ရှိ ပုဂ္ဂလိကပိုင် မြေဧရိယာ(၃)ဧကကို ငှါးရမ်း၍ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ကုမ္ပဏီအနေဖြင့် ရရှိလာမည့်အကျိုးအမြတ်များကို ကျေးလက်နှင့် မြို့ပြဖွံ့ဖြိုးရေးဆိုင်ရာလုပ်ငန်းများနှင့် ရဲစခန်း၊ ဆေးပေးခန်း၊ စာသင်ကျောင်း၊ မီးသတ်စခန်းများနှင့် ပတ်သက်သည့်အဆောက်အဦးများ၊ အများပြည်သူ အနားယူအပန်းဖြေရန် အဆင့်မီ ပန်းခြံနှင့်ကစားကွင်းများကို ဆောက်လုပ်ခြင်းစသည့် ပြည်သူ့အကျိုးပြုလုပ်ငန်းများတွင်အတတ်နိုင်ဆုံး သုံးစွဲသွားမည်ဖြစ်ပါသည်။

ရင်းနှီးမြှုပ်နှံမှု

၈။ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြုသည့် လုပ်ငန်းစီမံကိန်းတစ်ခုလုံးအတွက် အမေရိကန်ဒေါ်လာ(၁၀. ၈၁၃)သန်းအပါအဝင် စုစုပေါင်းကျပ်သန်း(၂၂၅၀၀) ကျခံသုံးစွဲသွားမည်ဖြစ်ပါသည်။ **FO Genset** များကို **Hire Purchase System** ဖြင့်ဝယ်ယူသွားမည်ဖြစ်ပြီး ကျသင့်ငွေများကို စီးပွားဖြစ်စတင်သည့်နေ့မှစ၍ (၄)နှစ်ဖြင့် အရစ်ကျ ပြန်လည်ပေးဆပ်သွားမည်ဖြစ်ပါသည်။

လျှပ်စစ်ဓါတ်အားဖြန့်ဝေရောင်းချခြင်း

၉။ ကျွန်တော်များကုမ္ပဏီအနေဖြင့် FO လောင်စာသုံး ဓါတ်အားပေးစက်ရုံမှထွက်ရှိလာသော လျှပ်စစ်ဓါတ်အားများကို ကျေးလက်နေပြည်သူများသို့ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနနှင့် မွန်ပြည်နယ်အစိုးရအဖွဲ့တို့မှ အတည်ပြုသတ်မှတ်ပေးမည့် ဓါတ်အားခနှုန်းထား (နိုင်ငံခြားငွေလဲလှယ်မှုနှုန်းထားပြောင်းလဲမှုပေါ်အခြေပြုတွက်ချက်မည့်နှုန်းထား)ဖြင့်ဖြန့်ဝေရောင်းချသွားမည်ဖြစ်ပါသည်။ ဤသို့ရောင်းချရာတွင်စနစ်တကျရှိစေရေးအတွက် ကျေးရွာများအလိုက်မီးလင်းရေးကော်မတီများနှင့် စာချုပ်ချုပ်ဆို၍ ဆောင်ရွက်



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236

သွားမည်ဖြစ်ပါသည်။ ထို့ပြင် မဟာဓါတ်အားလိုင်းရှိလာသည့်အခါ မဟာဓါတ်အားလိုင်းမှတဆင့် ရောင်းချနိုင်ရေးအတွက် သက်ဆိုင်ရာအာဏာပိုင်အဖွဲ့အစည်းများ၏ ခွင့်ပြုမိန့်များကို ရယူဆောင်ရွက်သွားမည်ဖြစ်ပါသည်။

<u>သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းခြင်း</u>

၁၀။ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြုတင်ပြသည့်စီမံကိန်း ဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်ထိခိုက်ယုတ်လျော့ ပျက်စီးစေမှုများမရှိစေရန်အတွက် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးကိစ္စများနှင့် ပတ်သက်သည့် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်နှင့် အကူအညီများကိုရယူပြီး ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

<u>မီးဘေးကာကွယ်ရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး</u>

၁၁။ မီးဘေးလုံခြုံရေးအတွက် ကြိုတင်အစီအမံများ စနစ်တကျထားရှိသွားမည့်အပြင် ဝန်ထမ်းသက်သာချောင်ချိရေးအတွက်လည်း နိုင်ငံတော်မှပြဋ္ဌာန်းထားသည့် လူမှုဖူလုံရေးဥပဒေများနှင့်အညီ လိုက်နာကျင့်သုံးဆောင်ရွက်သွားပါမည်။ မီးဘေးကာကွယ်ရေးစီမံချက်နှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်များကို ပူးတွဲတင်ပြအပ်ပါသည်။

<u>နိဂုံး</u>

၁၂။ ဤစီမံကိန်းသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ မွန်ပြည်နယ်အတွင်းရှိ ရေးမြို့နယ်တွင် အကောင်အထည်ဖော်သည့် လျှပ်စစ်ဓါတ်အားပေးစီမံကိန်းတစ်ခုဖြစ်သည်နှင့်အညီ လုပ်ငန်းစီမံကိန်း အကောင်အထည်ဖော်ရာတွင် ပြည်ထောင်စုအစိုးရအဖွဲ့၏လမ်းညွှန်ချက်နှင့် မွန်ပြည် နယ်အစိုးရအဖွဲ့တို့၏ အနီးကပ်ကြီးကြပ်ကွပ်ကဲ လမ်းညွှန်မှုအောက်တွင် အကောင်အထည်ဖော်ဆောင်ရွက် သွားမည်ဖြစ်ပါကြောင်းနှင့် ယခုစီမံကိန်းကို စနစ်တကျအချိန်နှင့်တပြေးညီ အမြန်ဆုံးအကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U Maung Maung Myint

Managing Director

South East General [illegible] Co., Ltd.




အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ရက်စွဲ၊ ၂၀၁၇ခုနှစ် ၊ စက်တင်ဘာလ (၁၅)ရက်

အကြောင်းအရာ။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများအတွက် ကတိဝန်ခံချက်တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြု တင်ပြသည့် FO လောင်စာသုံးဓါတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေ ရောင်းချခြင်းလုပ်ငန်းစီမံကိန်းကိုဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်များ ထိခိုက်ယုတ်လျော့ပျက်စီးမှုများ မရှိစေရန်အတွက် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးကိစ္စ များနှင့်ပတ်သက်သည့် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်နှင့် အကူအညီများကိုရယူပြီး ဆောင်ရွက်သွားမည် ဖြစ်ပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ရေးလုပ်ငန်းများဆောင်ရွက်နိုင်ရန် လုပ်ငန်းစတင်သည့်နှစ်မှစ၍ ရန်ပုံငွေအဖြစ် နှစ်စဉ် ကျပ် ၂၀၀,၀၀,၀၀၀/- (ကျပ်သိန်းနှစ်ရာတိတိ)ကို သီးသန့်ငွေစာရင်းခေါင်းစဉ် ဖွင့်လှစ်၍ ထည့်ဝင်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U Maung Maung Myint



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236

## အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်
## သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေးအတွက် ဆောင်ရွက်သွားမည့်လုပ်ငန်းစီမံချက်

**နိဒါန်း**

မွန်ပြည်နယ်၊ ရေးမြို့နယ်တွင် နိုင်ငံတော်မှ လျှပ်စစ်ဓါတ်အားပေးနိုင်ခြင်းမရှိသေးသည့် ကျေးရွာများအတွက် FOလောင်စာသုံး ဓါတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်းစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရခြင်းဖြစ်ပါသည်။

**ရည်ရွယ်ချက်**

၎င်းလုပ်ငန်းစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လေထု၊ ရေထုနှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိအောင် ဆောင်ရွက်သွားနိုင်ရန် လိုအပ်သောအစီအမံများ ချမှတ်ဆောင်ရွက်သွားရန်အတွက်ဖြစ်ပါသည်။

**လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်**

ယခုစီမံကိန်းသည် သတ္တုတူးဖော်ခြင်း၊ သစ်တောများခုတ်လှဲခြင်းနှင့် စက်ရုံတည်ဆောက်ခြင်းစသည့် တည်ရှိပြီးသဘာဝအနေအထားနှင့် ဘေးထွက်ဆိုးကြိုးများထွက်ရှိနိုင်သည့် စက်ရုံလုပ်ငန်းများဆောင်ရွက်သည့်လုပ်ငန်းစီမံကိန်းမဟုတ်ဘဲ ဒေသဖွံ့ဖြိုးရေးအတွက် နိုင်ငံတော်မှ လျှပ်စစ်ဓါတ်အားပေးနိုင်ခြင်းမရှိသေးသည့် ကျေးရွာများအတွက် FOလောင်စာသုံး ဓါတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်းစီမံကိန်းဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်စေမည်မဟုတ်ပါ။ သို့ရာတွင် FOလောင်စာသုံး ဓါတ်အားပေးစက်ရုံတည်ဆောက်ခြင်းဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင်နှင့် လူမှုဘဝဝန်းကျင်များ ထိခိုက်မှုမရှိရလေအောင် အောက်ပါအတိုင်းစနစ်တကျ စီစစ်ကြီးကြပ်ဆောင်ရွက်သွားပါမည်။

(၁) စက်ရုံမြေနေရာဖော်ထုတ်သည့်အခါ မြေတူးစက်များကြောင့် မြေမှုန့်များ ပတ်ဝန်းကျင်နေပြည်သူများထိခိုက်မှုမရှိအောင် ရေများအဆက်မပြတ်ပက်ဖျန်း၍ မြေယာပြုပြင်ခြင်းလုပ်ငန်းကိုဆောင်ရွက်သွားပါမည်။

(၂) တည်ရှိပြီးရေနုတ်မြောင်းနှင့် မြစ်ချောင်းများအားရေစီးရေလာကောင်းမွန်ရေးနှင့်သဘာဝအတိုင်းဆက်လက်စီးဆင်းနိုင်ရန် ကြီးကြပ်ဆောင်ရွက်သွားပါမည်။


အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814
Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960
Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236



(၃) စက်ရုံမြေနေရာဖော်ထုတ်ရာတွင် မလွတ်ကင်းသည့်ဧရိယာရှိ အပင်များမှအပလက်ရှိပေါက်ရောက်နေသည့် အရိပ်ရအပင်ကြီးများကို သဘာဝအနေအထားမပျက် ထားရှိနိုင်ရေးကြိုးကြပ်ဆောင်ရွက်သွားပါမည်။

(၄) ဖော်ထုတ်ပြီးစက်ရုံမြေနေရာရှိ မြေလွတ်များတွင်လည်း အရိပ်ရအပင်ကြီးများကို အလျှင်အမြန်ပြန်လည်စိုက်ပျိုး၍ ဥယျာဉ်ကြီးသဖွယ်ဖြစ်အောင် ဆောင်ရွက်သွားပါမည်။

(၅) ဖောက်လုပ်မည့်လမ်းများနှင့် သွယ်တန်းမည့် လျှပ်စစ်ဓါတ်အားလိုင်းများကိုလည်း အရည်အသွေးအဆင့်မီစွာဖြင့်ဆောင်ရွက်သွားမည်ဖြစ်ပြီး သဘာဝပတ်ဝန်းကျင်ထိခိုက်မှုမရှိအောင် စနစ်တကျဆောင်ရွက်သွားပါမည်။

(၆) လုပ်ငန်းဆောင်ရွက်ရာတွင် လူမှုဝန်းကျင်နှင့်သဘာဝပတ်ဝန်းကျင် အခြေအနေများ ထိခိုက်ပျက်စီးယုတ်လျော့မှုမရှိစေရန်အတွက် နိုင်ငံတကာအဆင့်မီ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းများ ဆောင်ရွက်နေသည့် ကုမ္ပဏီများမှ အကြံဉာဏ်နှင့်နည်းပညာများ ရယူဆောင်ရွက်သွားပါမည်။

<u>နိဂုံး</u>

ယခုဆောင်ရွက်မည့်စီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လူမှုဝန်းကျင်နှင့် သဘာဝပတ်ဝန်းကျင်များ ထိခိုက်ပျက်စီးယုတ်လျော့မှုမရှိအောင် စနစ်တကျကြိုးကြပ် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

U Maung Maung Myint
Managing Director
South East General Energy & Power Co., Ltd.




အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236


သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ရက်စွဲ၊ ၂၀၁၇ခုနှစ် ၊ စက်တင်ဘာလ (၁၅)ရက်

အကြောင်းအရာ။ **Corporate Social Responsibility(CSR)** လုပ်ငန်းများအတွက် ကတိဝန်ခံချက်တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြုတင်ပြသည့် **FO** လောင်စာသုံးဓါတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်းစီမံကိန်းကိုဆောင်ရွက်ရာတွင် **Corporate Social Responsibility (CSR)** လုပ်ငန်းများအတွက် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်နှင့် အကူအညီများကိုရယူပြီး ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ထို့ပြင် **Corporate Social Responsibility (CSR)** လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် နှစ်စဉ်ဝင်ငွေခွန်ပေးဆောင်ပြီး အသားတင်အမြတ်ငွေ၏ (၂%) ကိုသုံးစွဲသွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

U Maung Maung Myint

Managing Director

[illegible] Power Co., Ltd.

# အရှေ့တောင်အာရှထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်
# Corporate Social Responsibility (CSR)လုပ်ငန်းများအတွက်
# ဆောင်ရွက်မည့်အစီအစဉ်

ကျွန်တော်များကုမ္ပဏီအနေဖြင့် ယခုအဆိုပြုတင်ပြသည့် FOလောင်စာသုံးဓါတ်အားပေးစက်ရုံတည်ဆောက်၍လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်းစီမံကိန်း ဆောင်ရွက်ရာတွင် Corporate Social Responsibility (CSR) လုပ်ငန်းများဆောင်ရွက်နိုင်ရန်အတွက် နှစ်စဉ် ဝင်ငွေခွန်ပေးဆောင်ပြီး အသားတင်အမြတ်ငွေ၏(၂%) ကို အောက်ပါလုပ်ငန်းများတွင် ဖော်ပြထားသည့် အချိုးများအတိုင်းသုံးစွဲသွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

(က) စက်ရုံပတ်ဝန်းကျင်ရှိ ကျေးရွာ၊ လူနေရပ်ကွက်များတွင် စာကြည့်တိုက်များ ထူထောင်ပေးခြင်း (၁၅% သုံးစွဲပါမည်)

(ခ) စက်ရုံပတ်ဝန်းကျင်ရှိ ကျေးရွာ၊ လူနေရပ်ကွက်များတွင် ကျန်းမာရေးအထောက်အကူပြု ဆေးပေးခန်းများ ထူထောင်ပေးခြင်း (၂၀% သုံးစွဲပါမည်)

(ဂ) စက်ရုံပတ်ဝန်းကျင်ရှိ ကျေးရွာ၊ လူနေရပ်ကွက်များတွင် လမ်း၊တံတားများပြုပြင်ပေးခြင်းနှင့် ရေစီးရေလာကောင်းမွန်ရေးအတွက် ရေမြောင်းများပြုလုပ်ပေးခြင်း (၁၅% သုံးစွဲပါမည်)

(ဃ) စက်ရုံပတ်ဝန်းကျင်ရှိ ကျေးရွာ၊ လူနေရပ်ကွက်များတွင် နေ့ကလေးထိန်းဌာနဖွင့်လှစ်ပေးခြင်းနှင့် ပညာသင်ထောက်ပံ့ကြေးပေါင်းဒေးရှင်းများ ထူထောင်ပေးခြင်း (၂၀% သုံးစွဲပါမည်)

(င) ဤစီမံကိန်းနှင့် ဆက်နွယ်ပတ်သက်နေသည့် ကျေးရွာများတွင် မီးဘေးကာကွယ်ရေးအတွက် အရန်မီးသတ်တပ်ဖွဲ့များ ဖွဲ့စည်းပေးခြင်းနှင့် လိုအပ်သောမီးငြိမ်းသတ်ရေးပစ္စည်းများထောက်ပံ့ပေးခြင်း (၃၀%သုံးစွဲပါမည်)




အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236


## အခွန်ငွေများအပြည့်အဝပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်းနှင့် ရင်းနှီးမြှုပ်နှံမှုကာလဖော်ပြချက်

၁။ ကျွန်တော်များ ကုမ္ပဏီအနေဖြင့် မွန်ပြည်နယ်၊ ရေး၊ မြို့နယ်တွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် FOလောင်စာသုံး ဓါတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားထုတ်လုပ်ဖြန့်ဝေရောင်းချခြင်းလုပ်ငန်း စီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှုကာလကို (၃၀)နှစ် သတ်မှတ်ထားပါသည်။

၂။ ကျွန်တော်များကုမ္ပဏီမှ ခန့်ထားမည့် ဝန်ထမ်းများအနက် ဝင်ငွေခွန်ဥပဒေအရ ဝင်ငွေခွန်ပေးဆောင်ရမည့်ဝန်ထမ်းများ၏ လစာမှ ဝင်ငွေခွန်များကို လစဉ်ဖြတ်ယူပြီး သက်ဆိုင်ရာမြို့နယ်ပြည်တွင်းအခွန်များဦးစီးဌာနသို့ မပျက်မကွက်ပေးသွင်းသွားမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ ကုမ္ပဏီအနေဖြင့်လည်း နိုင်ငံတော်မှပြဋ္ဌာန်းထားသည့် အခွန်ဥပဒေများအတိုင်း ပေးသွင်းရမည့် အခွန်ငွေများကို အပြည့်အဝ မပျက်မကွက် ပေးသွင်းသွားမည်ဟု ဝန်ခံကတိပြုပါသည်။

ဦးမောင်မောင်မြင့်
အုပ်ချုပ်မှုဒါရိုက်တာ
အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

U Maung Maung Myint
Managing Director
South East General Energy & Power Co., Ltd.



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236

## အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်
## မီးဘေးလုံခြုံရေးစီမံချက်

**နိဒါန်း**

၁။ မီးလောင်မှုဖြစ်ပွားပါက ပစ္စည်းဥစ္စာများအပြင် လူများ၏အသက်အန္တရာယ်ပါ ပျက်စီးဆုံးရှုံးခြင်းကြောင့် လူမှုဘဝအတိဒုက္ခရောက်ကြရသဖြင့် မီးလောင်မှုမဖြစ်ပေါ်စေရန် ကြိုတင်ကာကွယ်မှုများ ပြုလုပ်ရန်အထူးလိုအပ်ပါသည်။ သို့ဖြစ်၍မီးလောင်ဆုံးရှုံးမှုမဖြစ်ပေါ်စေရေးအတွက်ဤ " မီးဘေးလုံခြုံရေးစီမံချက် "ကို ရေးဆွဲပြုစုခြင်းဖြစ်ပါသည်။

**ရည်ရွယ်ချက်**

၂။ မီးလောင်ကျွမ်းမှုမဖြစ်စေရန် ကြိုတင်ကာကွယ်ရေး၊ မီးလောင်ကျွမ်းမှုဖြစ်ပွားပါက စနစ်တကျ ရွှေ့ပြောင်းရေး၊ ငြိမ်းသတ်ရေးနှင့် ပျက်စီးဆုံးရှုံးမှု နည်းနိုင်သမျှနည်းစေရန် ထိန်းသိမ်းကာကွယ်စောင့်ရှောက်ရေး တို့ကိုရည်ရွယ်ပါသည်။

**မီးဘေးကြိုတင်ကာကွယ်ရေးဆောင်ရွက်ခြင်း**

၃။ မီးဘေးကြိုတင်ကာကွယ်ရေးကို အောက်ပါအတိုင်း ဆောင်ရွက်သွားရမည်-

(က) မီးလောင်လွယ်သော လောင်စာဆီများ၊ ဓါတ်ဆီ၊ ဒီဇယ်ဆီနှင့်စက်ဆီ၊ ချောဆီများအား သိုလှောင်ရာနေရာတွင် " မီးသတိပြု " " ဆေးလိပ်မသောက်ရ " စသည့်သတိပေးဆိုင်းဘုတ်များကို သိသာမြင်သာသောနေရာတွင် ထင်ရှားစွာချိတ်ဆွဲထားရှိရန်၊

(ခ) မီးဘေးအန္တရာယ် ကြိုတင်သတိပေး စာတမ်းများ၊ တားမြစ်ချက်များကို မြင်သာသည့်နေရာများတွင် စနစ်တကျ ချိတ်ဆွဲထားရှိရန်၊( အမှိုက်မပုံရ၊ မီးလောင်လွယ်သည်၊ ပေါက်ကွဲတတ်သည် )

(ဂ) မီးချိတ်၊ မီးကပ်၊ ရေပုံး၊ သဲပုံးများအား မြင်သာသည့် အလွယ်အသုံးပြုနိုင်သည့် နေရာများတွင် အမြဲတမ်း အသင့်အသုံးပြု အနေအထားရှိစေရန် ဆောင်ရွက်ထားရှိရန်၊

(ဃ) မီးသတ်ရေကန်များတွင် ရေအပြည့် အမြဲရှိနေရန်နှင့် သယ်ယူပက်ဖြန်းရမည့်ရေပုံး၊ ရေပိုက်များ၊ ရေစုတ်စက်၊ မီးသတ်စက်များ အသင့်ထားရှိဆောင်ရွက်ရန်၊

(င) မီးသတ်ဆေးဗူးများအား အမြဲစစ်ဆေးပြီး အသင့်အသုံးပြုနိုင်ရန် လုံလုံလောက်လောက် နေရာသတ်မှတ်၍ ထားရှိရန်၊

(စ) မီးဘေးလုံခြုံရေးကင်းများ၊ လှည့်ကင်းများကို လုံခြုံရေးနှင့် မီးသတ်ဝန်ထမ်းများအပြင် ဝန်ထမ်းများအားသတ်သတ်မှတ်မှတ်တာဝန်ပေးပြီး တာဝန်ကျဇယား၊ လုပ်ဆောင်ရမည့် ဇယားများရေးဆွဲဆောင်ရွက်ရန်၊ လိုအပ်သည့် အရံမီးသတ်သင်တန်းများ သင်ကြား လေ့ကျင့်ပေးရန်၊

(ဆ) လျှပ်စစ်သွယ်တန်းမှုနှင့် အသုံးပြုသောလျှပ်စစ်ပစ္စည်းများအား ပုံမှန်စစ်ဆေး၍ လိုအပ် သည်များ ပြုပြင်ရန်၊ စစ်ဆေးချက် မှတ်တမ်းများ ထားရှိရန်၊ **Main** ခလုတ်များ တပ်ဆင်ရန်၊

(ဇ) နိုင်ငံတကာအဆင့်မီ မီးငြိမ်းသတ်ရေးပစ္စည်းကိရိယာများ ထားရှိဆောင်ရွက်သွားရန်၊

<u>မီးဘေးအန္တရာယ်များကျရောက်စဉ် ဆောင်ရွက်ခြင်း</u>

၄။ မီးဘေးကြိုတင်ကာကွယ်မှု ပြုလုပ်ထားသော်လည်း အကြောင်းအမျိုးမျိုးကြောင့် အကယ်၍ မတော်တဆ မီးလောင်မှုဖြစ်ပွားပါက မီးဘေးဆုံးရှုံးမှု အနည်းဆုံးဖြစ်စေရန် အောက်ပါအတိုင်းစီမံ ဆောင်ရွက်ရမည်-

(က) မီးဘေးဆုံးရှုံးမှု အနည်းဆုံးဖြစ်စေရန်အတွက် မိမိအင်အားအဖွဲ့အစည်းများနှင့် မီးငြိမ်း သတ်ရေးပစ္စည်းများကို အပြည့်အစုံ အသုံးချငြိမ်းသတ်နိုင်ရန်၊

(ခ) ပစ္စည်းနှင့် လူများအား မီးလွတ်ရာသို့ သယ်ယူပို့ဆောင်ပေးရန်နှင့် လုံခြုံရေးအတွက် ဆောင်ရွက်ရန်၊

(ဂ) အခြားနေရာများသို့ မီးလောင်မှုမကူးစက်မပြန့်နှံ့စေရန် စနစ်တကျတားဆီးရန်၊

(ဃ) မီးလောင်ကျွမ်းရာနေရာသို့ ဝင်ရောက်လုယက်မှုများ မရှိစေရန်အတွက် လုံခြုံရေးဆောင် ရွက်ရန်၊

<u>အုပ်ချုပ်မှု</u>

၅။ မီးဘေးလုံခြုံရေးစီမံချက်ပါ လုပ်ငန်းများကို တိကျစွာလိုက်နာဆောင်ရွက်ရေး ကြီးကြပ်ကွပ်ကဲမှု အဖွဲ့ကို ဖွဲ့စည်းတာဝန်ပေးအပ်ရန် -

(က) အဖွဲ့ခေါင်းဆောင်

(ခ) ဒု- အဖွဲ့ခေါင်းဆောင်






Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236




(ဂ) အဖွဲ့ဝင်

(ဃ) အဖွဲ့ဝင်

(င) အတွင်းရေးမှူး

ဆက်သွယ်ရေး

၆။ မီးဘေးလုံခြုံရေးနှင့်ပတ်သက်၍ ဆက်သွယ်ရေးကို အောက်ပါအတိုင်း ဆောင်ရွက်ရန် ဖြစ်ပါသည်။

(က) ဆက်သွယ်ရေးစနစ်

တယ်လီဖုန်းဖြင့် ဆက်သွယ်ဆောင်ရွက်ရမည့် တယ်လီဖုန်းနံပါတ်များအတိုင်း ဆက်သွယ်ဆောင်ရွက်ရန်၊

(ခ) အထူးဆက်သား

တယ်လီဖုန်းဖြင့် ဆက်သွယ်ရာတွင် အခက်အခဲရှိပါက အထူးဆက်သားလွှတ်၍ အမြန်ဆုံးနှင့် အထိရောက်ဆုံး နည်းလမ်းဖြင့် ဆက်သွယ်ရန်၊

နိဂုံး

၇။ ဤစီမံချက်ပါ ရည်ရွယ်ချက်နှင့် လုပ်နည်းစနစ်များကို ထိရောက်ပြီပြင်စွာ ဆောင်ရွက်ရေးသည် စည်းလုံးညီညွတ်မှု၊ စည်းကမ်းတကျရှိမှု၊ တာဝန်ကျေပွန်မှု၊ စုပေါင်းဆောင်ရွက်မှုတို့ဖြစ်ရာ မိမိကျရာ တာဝန်ပိုင်းမှ တာဝန်ယူဆောင်ရွက်ကြရမည် ဖြစ်ပါသည်။

U Maung Maung Myint
Managing Director
South East General Energy & Power Co., Ltd.

အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814

Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960

Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236

## အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်
## ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်

ဝန်ထမ်းများသက်သာချောင်ချိရေးအတွက် အောက်ပါအစီအမံများအတိုင်းဆောင်ရွက်မည်ဖြစ်ပါသည်။

၁။ ဝန်ထမ်းများအရည်အသွေး မြင့်မားလာစေရေးအတွက် လိုအပ်သောသင်တန်းများပေးခြင်းနှင့် သင်တန်းသို့စေလွှတ်ပေးခြင်း၊

၂။ လုပ်ငန်းခွင်သာယာသန့်ရှင်းစေရေးအတွက် လိုအပ်သောအစီအမံများ ဆောင်ရွက်ပေးခြင်း၊

၃။ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် ပုံမှန်ဆေးစစ်ပေးခြင်းနှင့် လိုအပ်ပါက အထူးကုဆရာဝန်ကြီးများနှင့်ကုသစေခြင်း၊

၄။ ဝန်ထမ်းများ၏ နားနေဆောင်နှင့် ထမင်းစားဆောင်များ အမြဲသန့်ရှင်းစေအောင် ဆောင်ရွက်ပေးခြင်းနှင့် အမျိုးသားဝန်ထမ်းနှင့် အမျိုးသမီးဝန်ထမ်းများအတွက် သီးခြားဆောင်ရွက်ပေးခြင်း၊

၅။ နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် လူမှုဖူလုံရေးအက်ဥပဒေပါ အကျိုးခံစားခွင့်များရရှိအောင် စီစဉ်ဆောင်ရွက်ပေးခြင်းအပြင် ဝန်ထမ်းများနှင့်သက်ဆိုင်သည့် ထိခိုက်မှုအာမခံကြေးများကိုလည်း ရရှိခံစားနိုင်အောင်စီစဉ်ဆောင်ရွက်ပေးခြင်း၊

၆။ မြန်မာ့ရိုးရာဓလေ့အရ အခါကြီးရက်ကြီးများတွင် ဝန်ထမ်းအားလုံးနှင့် မိသားစုများပါဝင်လှူဒါန်းနိုင်အောင် စီစဉ်ဆောင်ရွက်ပေးခြင်း၊

၇။ ဝန်ထမ်းများ၏ သာရေးနာရေး ထောက်ပံ့ငွေများကိုလည်း ခေတ်နှင့်လျော်ညီစွာ ထောက်ပံ့ပေးခြင်း၊

၈။ လစာများအချိန်မှန်ထုတ်ပေးခြင်းနှင့် အချိန်ပိုလုပ်ကိုင်ခဲ့ရပါက နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ အချိန်ပိုလုပ်ခခံစားခွင့်များထုတ်ပေးခြင်း၊



အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

SOUTHEAST GENERAL ENERGY & POWER CO.,LTD.

Head office - No (89), Nilar Street, Yatanar Htun Pyawyon tan, Zay Kyo, MawlaMyaing, Mon State. Phone - 057 24814
Branch office - No 147 (4th Floor), Anaw Yahtar Road, Botahtaung Tsp, Yangon. Phone - 01-299960
Operation office - No. (35), Bayintnaung Street, YanKyiAung Quarter, Ye Tsp, Mon State Phone - 057 50236



၉။ အရေးပေါ်လိုအပ်ငွေများအတွက် ထုတ်ချေးငွေများကို အတိုးမဲ့ (သို့မဟုတ်) အတိုးနှုန်းနည်းနည်းဖြင့် ထုတ်ချေးပေးခြင်း၊

၁၀။ ဆုကြေးငွေများနှင့် အပိုဆောင်းငွေများ ထုတ်ပေးခြင်း၊

၁၁။ ကျန်းမာရေးအတွက် အားကစားကွင်းများ ဆောက်လုပ်ပေးခြင်းနှင့် လေ့ကျင့်နိုင်အောင် စီစဉ်ဆောင်ရွက်ပေးခြင်း၊

၁၂။ ဝန်ထမ်းများဗဟုသုတတိုးပွားစေရေးအတွက် စာကြည့်တိုက်များဖွင့်လှစ်ပေးပြီး သင့်တော်သည့် သတင်းစာ၊ စာစောင်၊ မဂ္ဂဇင်းနှင့် စာအုပ်စာတမ်းများ ထားရှိပေးခြင်း၊

၁၃။ သန့်စင်ခန်းများကို အမျိုးသား၊ အမျိုးသမီး သီးခြားခွဲထားပေးပြီး လုံလောက်စွာ ဆောက်လုပ်ပေးခြင်းအပြင် သန့်ရှင်းစေရေးအတွက် လိုအပ်သောရေလုံလောက်စွာ ရရှိအောင်ဆောင်ရွက်ပေးခြင်း၊

၁၄။ လိုအပ်ပါက ဝန်ထမ်းများအား ရုံးတက်၊ ရုံးဆင်းချိန်တွင် **Ferry** ဖြင့် ကြိုပို့လုပ်ပေးခြင်း၊

၁၅။ လွတ်လပ်ရေးနေ့နှင့် ပြည်ထောင်စုနေ့များတွင် နိုင်ငံတော်အလံတင်အခမ်းအနားများကို ကျင်းပပေးခြင်းနှင့် ပျော်ပွဲရွှင်ပွဲများကိုကျင်းပပေးခြင်း။

Managing Director
South East General Energy & Power Co., Ltd.

အရှေ့တောင်အထွေထွေစွမ်းအင်နှင့်လျှပ်စစ်ကုမ္ပဏီလီမိတက်

ပုံစံ ( ၄ - က )

# အတည်ပြုလျှောက်ထားလွှာ

042

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ် ၊ ၀၀၁/သျှပ်ဘဒ်ဓိမ်ကိန်း/၂၀၁၇

ရက်စွဲ ၂၀၁၇ ခုနှစ်၊စက်တင်ဘာလ ၁၅ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် ....................

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် ....................

ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် ....................

အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ....................

(ဂ) နိုင်ငံသား ....................

(ဃ) နေရပ်လိပ်စာ/ မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ ....................

....................

(င) တယ်လီဖုန်း /ဖက်စ် / အီးမေးလ်လိပ်စာ ....................

(စ) လုပ်ငန်းအမျိုးအစား(အသေးစိတ်ဖော်ပြပေးရန်) ....................

**မှတ်ချက်။** အောက်ပါအချက်များကိုပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူ

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည် ....................

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ....................

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ....................

(ဃ) နိုင်ငံသား ....................

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်နေရပ်လိပ်စာ ....................

....................

(စ) တယ်လီဖုန်း /ဖက်စ် ....................

(ဆ) အီးမေးလ်လိပ်စာ ....................

**မှတ်ချက်။** တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

ပုံစံ (၄ - က)

# အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ၀၀၁ /လျှပ်စစ်စီမံကိန်း/၂၀၁၇

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာလ၊ ၁၅ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအားဖြည့်စွက်၍ အတည်ပြုလျှောက်လွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် - ဦးမောင်မောင်မြင့်

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် - ၁၈၂၂/၂၀၁၆.၂၀၁၇ (ရက) (၂၆.၇.၂၀၁၆)
ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် - ၁၂/မဂတ (နိုင်) ၀၀၅၂၁၈

(ဂ) နိုင်ငံသား - မြန်မာ

(ဃ) နေရပ်လိပ်စာ/မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ - အမှတ် (၈၉)၊ နီလာလမ်း၊ ရတနာထွန်းပွဲရုံတန်း၊ ဈေးကြီးရပ်ကွက်၊ မော်လမြိုင်မြို့နှင့် အမှတ်- ၁၄၇ (၄လွှာ)၊ အနော်ရထာလမ်း၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။

(င) တယ်လီဖုန်း/ဖက်စ်/အီးမေးလ်လိပ်စာ - ၀၉၅၀၆၇၈၇၉

(စ) လုပ်ငန်းအမျိုးအစား (အသေးသိတ်ဖော်ပြပေးရန်) - FO လောင်စာသုံး လျှပ်စစ်ဓါတ်အားပေးစက်ရုံတည်ဆောက်၍ လျှပ်စစ်ဓါတ်အားဖြန့်ဝေရောင်းချခြင်း။

မှတ်ချက်။ အောက်ပါအချက်များကိုပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူ

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

